# Summit SPA Motors Limited နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာတင်ပြလာခြင်း | | - | |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာအပေါ် အကြောင်းပြန်ကြားခြင်း | | - | |
| ၃ | အဆိုပြုချက်တင်ပြလာခြင်း | | ၃၀-၄-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ်ပြင်ဆင် တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း(ဥပမာ)<br>- စက်ပစ္စည်းစာရင်း<br>- မြေငှားစာချုပ်(မိတ္တူ)<br>- မြေအထောက်အထား | | ၁၆-၅-၂၀၁၈ | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၈ (၇-၅-၂၀၁၈) | | |
| ၆ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | | ၁၇-၅-၂၀၁၈ | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | | ၁၅-၆-၂၀၁၈ | |
| ၈ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၁၈ (၂၂-၆-၂၀၁၈) | | |
| ၉ | ခွင့်ပြုမိန့်ထုတ်ပေးခြင်း | | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၃၀) ရက် | | |

## ကန့်သတ်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် Container Boxes ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Summit SPA Motors Limited<br>- Mr. Naoki Sakamura (Japanese) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Sumitomo Corporation (Japan) ၆၀%<br>- Elite Matrix International Ltd. (BVI) ၂၀%<br>- Yoma Nominee Ltd.(Myanmar)၂၀% |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် Container Boxes ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၁၉/၄၊ ကွင်းအမှတ်-၅၀၅၊ အထက်တံခွန်တိုင်အရှေ့၊ ရေတလဲဘောင်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - Yoma Development Group Limited |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၄.၉၂ ဧကအနက်မှ ၁.၅ ဧက(၆၀၇၀.၂၉ စတုရန်းမီတာ) |
| | ဆောက်လုပ်မည့်အဆောက်အဦ<br>အရေအတွက် | - ၇၅၃.၆၆ စတုရန်းမီတာ(တစ်ထပ်အဆောက်အဦတစ်လုံး-စက်ရုံ)<br>**စုစုပေါင်း ၁လုံး** |
| | မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၂၅၈ သန်း<br>(တစ်နှစ်လျှင်တစ်စတုရန်းမီတာအတွက် US$ ၉.၇၉ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ၅ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်<br>သက်တမ်း | - ၁၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - မရှိပါ။ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၃ သန်း |

| | နိုင်ငံခြား (၈၀%) | မြန်မာ (၂၀%) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၂.၁၁ | ၀.၅၃ | ၂.၆၄ |
| စက်ပစ္စည်းကိရိယာစာရင်း (ပြည်တွင်း) | ၀.၀၃ | ၀.၀၁ | ၀.၀၄ |
| အဆောက်အဦတန်ဖိုး | ၀.၂၆ | ၀.၀၆ | ၀.၃၂ |
| စုစုပေါင်း | ၂.၄၀ | ၀.၆၀ | ၃.၀၀ |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း<br>(ပထမနှစ်) | **ထုတ်လုပ်မှုအရေအတွက်** (Unit) / **ရောင်းဈေးနှုန်း** (US$/Unit) |
| | Reefer Box | ၃၀ / ၂၉၉၆၀ |
| | Dry Box | ၇၀ / ၂၆၆၄၅ |
| ၉။ | အခြားတင်ပြချက် | **ပြည်တွင်း** / **ပြည်ပ**<br>**အရေအတွက်** ၃၅ ဦး / -<br>**အမြင့်ဆုံးလစာ** ကျပ် ၃,၉၉၀,၀၀၀ / -<br>**အနိမ့်ဆုံးလစာ** ကျပ် ၂၆၆,၀၀၀ / -<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် Summit SPA Motors Limited သည် MUFG Bank တွင် ၃၀-၄-၂၀၁၈ ရက်စွဲဖြင့် US$ ၆၂,၃၂၃.၁၅ နှင့် KBZ Bank တွင် ၁-၅-၂၀၁၈ ရက်စွဲဖြင့် US$ ၁၅၄,၀၀၀ ရှိကြောင်းတင်ပြထားပါသည်။<br>- ကျပ်ငွေအထောက်အထားအဖြစ် Summit SPA Motors Limited သည် KBZ Bank တွင် ၁-၅-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၁,၄၈၀,၄၁၃.၄၀ ရှိကြောင်းတင်ပြထားပါသည်။<br>- ထုတ်လုပ်မည့်ပစ္စည်းများ၏နမူနာပုံများနှင့်Assembly Method များအားတင်ပြထားပါသည်။<br>- Hino Motors, Ltd. နှင့် Summit SPA Motors, Ltd. တို့ ချုပ်ဆိုထားသည့် Memorandum of After Sales Services နှင့်Hino Distributorship Agreement တို့အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - မော်တော်ကားတွင်ကုန်ပစ္စည်း တင်ရန် container ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2920 တွင် အကျုံးဝင်ပါသည်။<br>- Yoma Development Group Limited နှင့် Summit SPA Motors, Ltd. တို့အကြား ၁၄-၂-၂၀၁၉ နေ့အထိ ၁နှစ် သက်တမ်းဖြင့် ထပ်ဆင့်မြေငှားရမ်းခြင်းစာချုပ် ချုပ်ဆို ထားပြီး အဆိုပါမြေနေရာ၌ သက်တမ်း ၅နှစ် တိုးမြှင့် ချုပ်ဆိုမည် ဖြစ်ပါသည်။<br>- ဂျပန်နိုင်ငံမှ Hino အမှတ်တံဆိပ် Light Duty Truck -LDT, Medium Duty Truck-MDT နှင့် Heavy Duty Truck-HDT မော်တော်ယာဉ်များ တင်သွင်း၍ ကုန်ပစ္စည်းတင်ရန် Container Box များအား တပ်ဆင်ထုတ်လုပ်သွားမည်ဖြစ်ပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၁၃/၂၀၁၈(၀၉၁ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် Container Boxes ထုတ်လုပ် တပ်ဆင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဂျပန်နိုင်ငံရှိ Sumitomo Corporation မှ (၆၀%)၊ British Virgin Islands ရှိ Elite Matrix International Ltd.မှ (၂၀%) နှင့် မြန်မာနိုင်ငံရှိ Yoma Nominee Ltd. မှ(၂၀%) တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited တည်ထောင်ကာ ဦးပိုင်အမှတ်-၁၉/၄၊ ကွင်းအမှတ်-၅၀၅၊ အထက်တံခွန်တိုင်အရှေ့၊ ရေတလဘောင် ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၉၁ ဧကအနက်မှ ၁.၅ဧကတွင် (၆၀၇၀.၂၉စတုရန်းမီတာ)တွင်မော်တော်ကားတွင်ကုန်ပစ္စည်းတင်ရန်Container Boxes ထုတ်လုပ် တပ်ဆင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Yoma Development Group Limited နှင့် Summit SPA Motors Limited တို့ချုပ်ထားသည့် Sub-Lease Agreement ၊ မြေဆိုင်ရာ အထောက်အထားများ(မိတ္တူ)၊ ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)နှင့် ထုတ်လုပ်မည့် Container Boxes ဓာတ်ပုံများအားတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၅နှစ် ဖြစ်ပြီး စုစုပေါင်း မြေ ၄.၉၂ဧကအနက်မှ မြေ၁.၅ဧက (၆၀၇၀.၂၉ စတုရန်းမီတာ)အား ငှားရမ်း၍ နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ မှာ ကျပ် ၂၅၈သန်း ဖြစ်ပါသည်။ မြေ၁.၅ဧက(၆၀၇၀.၂၉ စတုရန်းမီတာ)အတွက် ၁နှစ်တစ်စတုရန်းမီတာလျှင်US$ ၉.၇၉ နှုန်း ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စီမံကိန်းကာလမှာ ၁၀နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ US$ ၃ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | **နိုင်ငံခြား (၈၀%)** | **မြန်မာ (၂၀%)** | **စုစုပေါင်း (US$/သန်း)** |
|---|---|---|---|
| ငွေသား | ၂.၁၁ | ၀.၅၃ | ၂.၆၄ |
| စက်ပစ္စည်းကိရိယာစာရင်း (ပြည်တွင်း) | ၀.၀၃ | ၀.၀၁ | ၀.၀၄ |

ကန့်သတ်

| | | | |
|---|---|---|---|
| အဆောက်အဦတန်ဖိုး | ၀.၂၆ | ၀.၀၆ | ၀.၃၂ |
| **စုစုပေါင်း** | **၂.၄၀** | **၀.၆၀** | **၃.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှဝန်ထမ်း ၃၅ ဦးခန့်အပ်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၆၆,၀၀၀နှင့် အမြင့်ဆုံးလစာ ကျပ် ၃,၉၉၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော Container များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပထမနှစ်တွင် ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | **ထုတ်လုပ်မှု အရေအတွက် (Unit)** | **ရောင်းဈေးနှုန်း (US$/Unit)** |
|---|---|---|
| Reefer Box | ၃၀ | ၂၉၉၆၀ |
| Dry Box | ၇၀ | ၂၆၆၄၅ |

၈။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ စက်မှုဝန်ကြီးဌာနနှင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်းအပေါ် သက်ဆိုင်ရာဌာနများမှ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားထားပါသည်။

၁၀။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Summit SPA Motors Limited သည် MUFG Bank တွင် ၃၀-၄-၂၀၁၈ ရက်စွဲဖြင့် US$ ၆၂,၃၂၃.၁၅ ၊ KBZ Bank တွင် ၁-၅-၂၀၁၈ ရက်စွဲဖြင့် US$ ၁၅၄,၀၀၀ ရှိကြောင်း နှင့် ကျပ်ငွေအထောက်အထားအဖြစ် Summit SPA Motors Limited သည် KBZ Bank တွင် ၁-၅-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၁,၄၈၀,၄၁၃.၄၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဖြစ်ပြီးရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပါသည်။

(ဂ) ပြည်ပမှ HINO အမှတ်တံဆိပ်ဖြင့် Cab with Chassis နှင့် Container Boxes များအား တင်သွင်းပြီး ပြည်တွင်းတွင် တပ်ဆင်ထုတ်လုပ်မည် ဖြစ်ပါသည်။ မော်တော်ယာဉ် နောက်တွဲတွင် တပ်ဆင်မည့် Reefer Box နှင့် Dry Box များ အတွက် လိုအပ်သောကုန်ကြမ်းများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်း၍ တရုတ်နိုင်ငံ၏နည်းပညာဖြင့် ပြည်တွင်းတွင်တပ်ဆင်ထုတ်လုပ်မည် ဖြစ်ပါသည်။

(ဃ) Hino Motors, Ltd. နှင့် Summit SPA Motors, Ltd. တို့ ချုပ်ဆိုထားသည့် Hino Distributorship Agreement နှင့် Memorandum of After Sales Services တို့အားတင်ပြထားပါသည်။

(င) မြေပိုင်ရှင်ဒေါ်ဝေဝေမွန်မှ မြေ ၁၂ဧကခန့် ကျယ်ဝန်းသော မြေကွက်အား Yoma Development Group Limited သို့ မြေငှားသက်တမ်း ၅နှစ်ဖြင့် ငှားရမ်းထားသည့် မြေငှားစာချုပ် တင်ပြထားပါသည်။

(စ) Yoma Development Group Limited မှ Summit SPA Motors Limited သို့ မြေ ၄.၉၂ ဧက အား (၁၅-၂-၂၀၁၄မှ ၁၄-၂-၂၀၁၉)ထိ ထပ်ဆင့် ငှားရမ်းခဲ့ပြီး လက်ရှိတွင် HINO အမှတ်တံဆိပ်ဖြင့် မော်တော်ကား တင်သွင်းရောင်းချခြင်းနှင့် ပြုပြင်ထိန်းသိမ်းပေးခြင်းလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်လျက် ရှိပါသည်။

(ဆ) ယင်းမြေဧက၄.၉ဧကအနက်မှ ၁.၅ဧကပေါ်ရှိမြေနှင့်အဆောက်အဦတွင် Container Boxes ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်(၁၅-၂-၂၀၁၉မှ ၁၄-၂-၂၀၂၄) ထိ ထပ်မံငှားရမ်းမည့် မြေငှားစာချုပ် မူကြမ်း တင်ပြထားပြီး မြေပိုင်ရှင် ဒေါ်ဝေဝေမွန်မှ (၅)နှစ် ထပ်ဆင့် ငှားရမ်းခြင်းကို ကန့်ကွက်ရန်မရှိကြောင်း စာတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited မှ မော်တော်ကား တွင် ကုန်ပစ္စည်းတင်ရန် Container Boxes ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေ လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

M.500
30/5/18

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၂.၅.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃ အ-၄၉/၂၀၁၈(၂၀၇)

၁။ ဂျပန်နိုင်ငံရှိ Sumitomo Corporation မှ (၆၀%)၊ British Virgin Islands ရှိ Elite Matrix International Ltd.မှ(၂၀%)နှင့် မြန်မာနိုင်ငံရှိ Yoma Nominee Ltd.မှ (၂၀%) တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited တည်ထောင်ကာ ဦးပိုင်အမှတ်-၁၉/၄၊ ကွင်းအမှတ်-၅၀၅၊ အထက်တံခွန်တိုင်အရှေ့၊ ရေတလဘောင်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၉၁ ဧက (၁၉၈၇၀.၀၈ စတုရန်းမီတာ)တွင် မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် Container ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၄.၅.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၁/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၉၉)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Summit SPA Motors Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet 40(2)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေ လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂.၅.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃ အ-၄၉/၂၀၁၈(၂၀၇)

၁။ ဂျပန်နိုင်ငံရှိ Sumitomo Corporation မှ (၆၀%)၊ British Virgin Islands ရှိ Elite Matrix International Ltd.မှ(၂၀%)နှင့် မြန်မာနိုင်ငံရှိ Yoma Nominee Ltd.မှ (၂၀%) တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited တည်ထောင်ကာ ဦးပိုင်အမှတ်-၁၉/၄၊ ကွင်းအမှတ်-၅၀၅၊ အထက်တံခွန်တိုင်အရှေ့၊ ရေတလဘောင်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၉၁ ဧက (၁၉၈၇၀.၀၈ စတုရန်းမီတာ)တွင် မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် Container ထုတ်လုပ်တပ်ဆင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၄.၅.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၁/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၉၉)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Summit SPA Motors Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet 40(2)

DG 2
13/6/18



NPT-2085
12.6.18

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃ - စမ ( ၂ ) ၂၀၁၈ ( ၇၄၀ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ ဇွန်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.567
14/6/18

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၅.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၃ / ခ - ၀၁၃ / ၂၀၁၈ ( ၀၅၃ )

၁။ Summit SPA Motors Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ရေတလဘောင်ကျေးရွာအုပ်စု၊ အထက်တံခွန်တိုင်အရှေ့ ကွင်းအမှတ်( ၅၀၅ )၊ မြေကွက်အမှတ်( ၁၉ / ၄ )တွင် မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် container တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ၎င်းလုပ်ငန်းမှာ ပြည်ပမှတင်သွင်းခြင်းထက် ပြည်တွင်း၌ တပ်ဆင်ထုတ်လုပ်ခြင်းဖြင့် ယာဉ်တစ်စီးလျှင် USD ၄၀၀၀ ခန့် သက်သာမည်ဖြစ်၍ သွင်းကုန်အစားထိုးထုတ်လုပ်နိုင်မည်ဖြစ်ပြီး ပြည်ပသို့ နိုင်ငံခြားငွေစီးဆင်းမှုလျော့နည်းလာနိုင်မည် ဖြစ်ပါသည်။

( ခ ) Production Capacity အနေဖြင့် ၂၀၁၈ - ၂၀၁၉ ခုနှစ်မှ ၂၀၂၇ - ၂၀၂၈ ခုနှစ်ထိ ( ၁၀ )နှစ်တာ ထုတ်လုပ်မှုတွင် Container ယာဉ်အစီးရေ( ၁၀၀ )စီးမှ နှစ်အလိုက် ( ၂၀ )စီးစီ တိုးမြှင့်ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

( ဂ ) Reefer Box Container တပ်ဆင်ထုတ်လုပ်ရန် လိုအပ်သော ကုန်ကြမ်းပစ္စည်း( ၆ )မျိုးနှင့် Dry Box Container တပ်ဆင်ထုတ်လုပ်ရန် လိုအပ်သောကုန်ကြမ်းပစ္စည်း( ၅ )မျိုးအား တရုတ်ပြည်မှမှာယူပြီး နောင်တွင် ပြည်တွင်းရှိ ကုန်ကြမ်းပစ္စည်းများဖြင့် အစားထိုး အသုံးပြုမည် ဖြစ်ပါသည်။

(ဃ) Reefer Box( အလေးချိန် ၈၂၀ ကီလိုဂရမ်အောက်)နှင့် Dry Box( အလေးချိန် ၇၄၉ ကီလိုဂရမ်အောက်) Container (၂) မျိုး ထုတ်လုပ်မည် ဖြစ်ပါသည်။

(င) Container Box များနှင့် တွဲဖက်အသုံးပြုရန် Left Hand Drive ၊ HINO 300 Series Model ယာဉ်အမျိုးအစား( ၅.၂ )တန်မှ ( ၈.၂၅ )တန်အထိ ( ၆ )မျိုးကို Cabin with Chassis စနစ်ဖြင့် တင်သွင်းမည်ဖြစ်ပြီး ၎င်းမော်တော်ယာဉ်( ၆ )မျိုး၏ Emission Standard မှာ Euro 1 ( ၂ )မျိုးနှင့် Euro 2 ( ၄ )မျိုးဖြစ်ပြီး နိုင်ငံအတွင်း လိုက်နာရန် သတ်မှတ်ဆောင်ရွက်ရမည့် မူဝါဒများနှင့် ကိုက်ညီရန် လိုအပ်ပါသည်။

(စ) မူရင်းကုမ္ပဏီ၏ ထုတ်လုပ်ခွင့်ပြုသည့် Authorization Letter ၊ ယာဉ်၏ မူလအရည်အသွေးများကို ထိခိုက်မှုမရှိစေဘဲ စံသတ်မှတ်ချက်များနှင့်အညီ ထုတ်လုပ်မှုနည်းစဉ်နှင့် Inspection လုပ်ငန်းစဉ်များ၊ ထုတ်ကုန်အရည်အသွေး အာမခံမှုတို့ လိုအပ်ပြီး Road Safety အတွက် အလေးထား ဆောင်ရွက်ရမည် ဖြစ်ပါသည်။

(ဆ) ကုမ္ပဏီ အနေဖြင့် ဆောင်ရွက်ထားရှိမှု အထောက်အထားများ တင်ပြရန် လိုအပ်ပြီး မူလထုတ်လုပ်သူ၏ ကြီးကြပ်ခွင့်ပြုမှုနှင့် ယာဉ်အမျိုးအစား ပြောင်းလဲခြင်းအပေါ် ပြည်တွင်း၌ သတ်မှတ်ပြဋ္ဌာန်းထားသည့် လုပ်ထုံးလုပ်နည်း၊ နည်းဥပဒေများနှင့် ကိုက်ညီရမည် ဖြစ်ပါသည်။

၃။ သို့ပါ၍ Summit SPA Motors Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် Container တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေ စည်းမျဉ်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်( ၁ )အကြီးစားစက်မှုလုပ်ငန်း

DG 14
7/6/18




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/မလ(ကညန)/၂၀၁၈(၁၄၈၇)

ရက် စွဲ၊ ၂ ၀ ၁ ၈ ခုနှစ်၊ ဇွန်လ ၁ ရက်

NPT-2016
6.6.18

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-534
7/6/18

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ်၊ မေလ (၁၇)ရက်စွဲပါစာအမှတ်၊ မရက-၃/ခ-၀၁၃/၂၀၁၈ (၀၅၂)

၁။ ဂျပန်နိုင်ငံရှိ Sumitomo Corporation မှ (၆၀%)၊ Birtish Virgin Islands ရှိ Elite Matrix Interniational Ltd. မှ (၂၀%) နှင့် မြန်မာနိုင်ငံရှိ Yoma Nominee Ltd. မှ (၂၀%) တို့သည် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Summit SPA Motors Limited တည်ထောင်ကာ ဦးပိုင်အမှတ် ၁၉/၄၊ ကွင်းအမှတ် ၅၀၅၊ အထက်တံခွန်တိုင်အရှေ့၊ ရေတာလဘောင်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၉၁ ဧက (၁၉၈၇၀.၀၈ စတုရန်းမီတာ) ၌ မော်တော်ကားတွင် ကုန်ပစ္စည်းတင်ရန် container တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မော်တော်ယာဉ်တွင် ကုန်ပစ္စည်းတင်ရန် တပ်ဆင်သည့် Container များအား ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနမှ မှတ်ပုံတင်ပေးရန်မလိုအပ်သော်လည်း ၎င်းဦးစီးဌာနမှ လိုက်နာကျင့်သုံးလျက်ရှိသည့် Container များအားသယ်ဆောင်အသုံးပြုမည့် မော်တော်ယာဉ်များ၏ Maximum Dimension များအားသိရှိခြင်းဖြင့် လိုက်လျောညီထွေဖြစ်စေမည့် Container များတည်ဆောက်နိုင်ရေး အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ASEAN Motor Vehicle Requirement Standard (Axle Load, Weight and Dimension) အရ မော်တော်ယာဉ်တစ်စီးအတွက် သတ်မှတ်ထားသည့် Maximum Vehicle Dimension များအား အောက်ပါအတိုင်းသတ်မှတ်ထားပါကြောင်း အသိပေးပြန်ကြားအပ်ပါသည်-

(က) Rigid Vehicle Overall Length 12.2 m (max)

| | | |
|---|---|---|
| (ခ) | Articulated Vehicle Overall Length | 16.0 m (max) |
| (ဂ) | Overall Width | 2.5 m (max) |
| (ဃ) | Overall Height | 3.66 m (max, Normal Vehicle) |
| (င) | Overall Height | 4.6 m (max, Container Carrier) |

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူ။
ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ